ပုံစံ (မနသ-၂)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ် ၄၂၀
ရက်စွဲ ၂၄-၅-၂၀၁၇
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၂၅၅ / ၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ မေ လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးသန်းဝင်းဆွေ

(ခ) **အဘ အမည်** ဦးညွန့်မောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉/မနတ(နိုင်) ဂ၄၉၃၄၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁၀)၊ အခန်း(၁၀၃)၊ အောင်မြေသာစည်အိမ်ရာ၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ကွန်ရက်အထောက်အကူပြုဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်းများ

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကချင်ပြည်နယ်၊ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်းဒေသကြီးများရှိ မြို့များ

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၈၂၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၉၇ သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်သိန်း ရှစ်သောင်း နှစ်ထောင် သန်းတိတိ)

(ဈ) **တည်ဆောက်ရေးကာလ** ၅ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၁၅ နှစ်

24.5.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၂၆ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် မေ လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် အမှတ် ၅၂၀/A-5၊ ပြည့်ဝ ကွန်ဒို၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ပထမထပ်အခန်းအားလုံးတွင် ရုံးခန်းဖွင့်လှစ်၍ ကချင်ပြည်နယ်၊ ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိမြို့များတွင် 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ကွန်ရက် အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက် အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြချက်အား ၂၀၁၇ ခုနှစ် ဧပြီ လ ၂၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) အား ကွန်ရက် အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၂၅၅ /၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ Amara Communications Company Limited (အမရဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ သတ်မှတ်ထားသော ကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလွှာတွင် ဖော်ပြထားသည့် တည်ဆောက်ရေးကာလ (၅)နှစ်အတွင်း ဝန်ဆောင်မှုပေးခြင်းမှ ဝင်ငွေရရှိပါက ထိုဝင်ငွေအပေါ် ထိုက်သင့်သောဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်ရမည်။

၅။ Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၆။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် Amara Communications Company Limited (အမရဆက်သွယ်ရေး ကုမ္ပဏီလီမိတက်) နှင့် International Group of Entrepreneur Co.,Ltd. တို့ချုပ်ဆိုမည့် ထပ်ဆင့် တိုက်ခန်းငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သောတံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၉။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၏ Network Facilities Services (Individual) Licenseပါ စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်၊ ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၁၀။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် ပြည်ပမှတင်သွင်းမည့် ဆက်သွယ်ရေး လုပ်ငန်းသုံးပစ္စည်းများကို ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် ကော်မရှင်သို့ တင်ပြရမည်။

၁၁။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး

နှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်း များကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၅။ ထို့ပြင် Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၆။ Amara Communications Company Limited(အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ/အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ် သလို အရေးယူ နိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည့် အထိ အရေးယူခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

24.8.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၄ / မ-၁၅၇၆/ ၂၀၁၇ ( ၄၂၀ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေ လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ကချင်ပြည်နယ်အစိုးရအဖွဲ့ရုံး

ကယားပြည်နယ်အစိုးရအဖွဲ့ရုံး

ချင်းပြည်နယ်အစိုးရအဖွဲ့ရုံး

ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Amara Communications Company Limited (အမရ ဆက်သွယ်ရေး ကုမ္ပဏီ လီမိတက်)

# ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)

## PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် (အလုံ) |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Amara Communications Co., Ltd. | ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှု လုပ်ငန်း၊ အင်တာနက် အချက်အလက်နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ | (၂/၂၀၁၇) (၉-၁-၂၀၁၇) | (က) Annex-11 တွင် ဖော်ပြထားသော ပစ္စည်းစာရင်း အသေးစိတ်စိစစ်တင်ပြရန်။ | တင်ပြပြီး | က |
| | | | | (ခ) ငှားရမ်းမည့် အခန်းအရေအတွက်နှင့် အခန်းနံပါတ်များကို တိကျစွာ ဖော်ပြပေးရန်နှင့် အိမ်ခန်း ပိုင်ဆိုင်မှု အထောက်အထား တင်ပြရန်။ | တင်ပြပြီး | ခ |
| | | | | (ဂ) လုပ်ငန်းအမျိုးအစားဖော်ပြချက် ပြင်ဆင်တင်ပြရန်။ | တင်ပြပြီး | ဂ |

## Amara Communications Co., Ltd. မှ ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများကို ဆောင်ရွက်ရန်အတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၃-၂၀၁၇ | ၂၉-၃-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၀-၁-၂၀၁၇ | ၂၀-၁-၂၀၁၇ | |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၁၃-၂-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇) သို့ တင်ပြခြင်း | ၉-၁-၂၀၁၇ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၁၇-၁-၂၀၁၇<br>၂၀-၂-၂၀၁၇<br>၂၈-၃-၂၀၁၇ | ၅-၄-၂၀၁၇ | |
| ၅ | ပတ်ဝန်းကျင် သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၄-၁-၂၀၁၇ | ၅-၄-၂၀၁၇ | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၅-၄-၂၀၁၇ | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | (၉၇) ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Amara Communications Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ |
| တည်နေရာ | - | ကချင်ပြည်နယ်၊ ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိ မြို့များ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | စုစုပေါင်း ကျပ် ၁၈၂၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၉၇ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ၁၅ နှစ် |
| အရင်းကြေကာလ | - | ၉ နှစ် |
| IRR | - | ၁၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃၀.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၃၁၅၇၇.၀၀ သန်း |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၂၆၁၀၀.၀၀ သန်း | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၀၁၄၀.၀၀ သန်း | ကျပ် ၈၅၀၂၀.၀၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ကျပ် ၂၆၆၆၀၄.၀၀ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၅၇၂၀၀.၀၀ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၀၂ ဦး |
| | | | ပြည်တွင်းလုပ်သား (၃၀၂) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြု စေပါသည်။ |
| | | ကျပ် ၁၃၆၂၇၀.၀၀သန်း | ကျပ် ၄၄၀၄၀၂.၁၇ သန်း |
| | Cost : Benefit | ၁ : ၃ | |

## Amara Communications Co., Ltd. မှ ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန် နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Amara Communications Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသန်းဝင်းဆွေ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၄။ | လုပ်ငန်းအမျိုးအစား | - 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ |
| ၅။ | လုပ်ငန်းတည်နေရာ/မြေအကျယ်အဝန်း | - ကချင်ပြည်နယ်၊ ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိ မြို့များတွင် ဆောင်ရွက်မည်ဖြစ်ပါသည်။<br>ရုံးခန်းတည်နေရာမှာ အမှတ် ၅၂၀/A-5၊ ပြည့်ဝ ကွန်ဒို၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ပထမထပ် အခန်းအားလုံး |
| ၆။ | **စုစုပေါင်းမတည်ငွေရင်း** | အမေရိကန်ဒေါ်လာ ၉၇ သန်းအပါအဝင် စုစုပေါင်း ကျပ် ၁၈၂၀၀၀ သန်း ဖြစ်ပါသည်။ ၎င်းတွင် ကိုယ်ပိုင်မတည်ငွေ ကျပ် ၃၆၄၅၂ သန်း (၂၀%) နှင့် ချေးငွေ အမေရိကန်ဒေါ်လာ ၁၁၂.၁၆ သန်း (၈၀%) ဖြစ်ပါသည်။ |
| | - ငွေသား | ကျပ် ၅၅၉၀၀.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာများတန်ဖိုး | ကျပ် ၁၂၆၁၀၀.၀၀ သန်း (US$ ၉၇.၀၀ သန်းအပါအဝင်) |
| | **စုစုပေါင်း** | **ကျပ် ၁၈၂၀၀၀.၀၀ သန်း (US$ ၉၇.၀၀ သန်းအပါအဝင်)** |
| ၇။ | လုပ်ငန်းသက်တမ်း | - ၁၅ နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - ၅ နှစ် |
| ၉။ | ထပ်ဆင့် မြေငှားရမ်းခနှုန်းထား | - ကုမ္ပဏီရုံးခန်းအား International Group of Entrepreneur Co.,Ltd ထံမှ တစ်လလျှင် ကျပ် ၇၅ သိန်း နှုန်းဖြင့် ၃ နှစ် ထပ်ဆင့် ငှားရမ်းမည် ဖြစ်ပါသည်။ |
| ၁၀။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၁၄၅.၀၂ သန်း |
| ၁၁။ | အသားတင်အမြတ် (၆ နှစ်မြောက်) | - US$ ၂၄.၈၅ သန်း |

| | | |
|---|---|---|
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - US$ ၈.၂၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၇.၂၅ သန်း |
| | အရင်းကြေကာလ | - ၉ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၆ % |
| ၁၃။ | ဝန်ထမ်းအင်အား | - **၃၁၂ ဦး** |
| | ပြည်တွင်း | ၃၀၂ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ တစ်လလျှင် ကျပ် ၁၀,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၀ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၁,၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ တစ်လလျှင် ကျပ် ၂၆,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၇၀၂၃၉ Kwh |
| ၁၅။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် Amara Communi - cations Co., Ltd.အမည်ဖြင့် UABBank၌ ၂၅-၄-၂၀၁၇ ရက်စွဲရှိ ငွေလက်ကျန် ကျပ် ၃၈၇,၅၈၀,၅၀၃.၆၇ ရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထား အဖြစ် Amara Communications Co., Ltd. အမည်ဖြင့် United Amara Bank Ltd. ၌ ၂၀-၃-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၉၇၈,၄၂၇.၄၇ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | CSR | အသားတင်အမြတ်ငွေ၏ ၂ % |
| ၁၇။ | စိစစ်တင်ပြချက် | (က) Amara Communications Co., Ltd. သည် ကချင်ပြည်နယ်၊ ကယား ပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိ မြို့များတွင် 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ဆက်သွယ်ရေး |

| | | |
|---|---|---|
| | | ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ ဆက်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာန ထံမှ လေလံ အောင်မြင်ထားပါသည်။<br>(ခ) Amara Communications Co., Ltd. သည် Network Facilities Service (individual) License ကို ၃၀-၃-၂၀၁၆ မှ ၂၉-၃-၂၀၁၆ အထိ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာနထံမှ ရရှိထား ပြီး ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်း အတွက် ချေးငွေ အမေရိကန် ဒေါ်လာ ၁၁၂.၁၆ သန်းအား International Group of Entrepreneur Co., Ltd. ထံမှ တစ်နှစ်လျှင် အတိုးနှုန်း ၂% ဖြင့် ၅ နှစ်အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ကြောင်း ချေးငွေ ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထား သည်ကို စိစစ်တွေ့ရှိ ရပါသည်။<br>(ဃ)အဆိုပြုလွှာတွင် ဖော်ပြထားသည့် တည်ဆောက်ရေး ကာလ (၅)နှစ်အတွင်း ဝန်ဆောင်မှု ပေးခြင်းမှ ဝင်ငွေရရှိပါက ထိုဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင် ရမည်။<br>(င) ၂၀၁၆-၁၇ ဘဏ္ဍာနှစ် အတွက် ဝင်ငွေခွန် ပေးဆောင်ပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။<br>(စ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ အရ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။<br>(ဆ)ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီး ဌာန၊ မူဝါဒ နှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၄/မ-၁၅၇၆/၂၀၁၇( ၃၅၇ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီ လ ၂၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြမည့်**

**အမှာစာ**

အကြောင်းအရာ။ **Amara Communications Co., Ltd. မှ ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Amara Communications Co., Ltd. သည် အမှတ် ၅၂၀/A-5၊ ပြည့်ဝကွန်ဒို၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ပထမထပ် အခန်းအားလုံးတွင် ရုံးခန်းဖွင့်လှစ်၍ ကချင်ပြည်နယ်၊ ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်းဒေသကြီးရှိ မြို့များတွင် 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ကွန်ရက် အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက် အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ Amara Communications Co., Ltd. ၏ ကိုယ်စား ဒါရိုက်တာ ဦးသန်းဝင်းဆွေ နှင့် International Group of Entrepreneur Co., Ltd. ကိုယ်စား ဒေါ်ခိုင်ကေသီလင်း တို့ ချုပ်ဆိုမည့် တိုက်ခန်း ထပ်ဆင့်ငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ International Group of Entrepreneur Co.,Ltd. ကိုယ်စား ဒေါ်ခိုင်ကေသီလင်း နှင့် တိုက်ခန်းပိုင်ရှင် ဦးစိုးလှိုင် တို့ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၅ ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် တိုက်ခန်း ငှားရမ်းခြင်းစာချုပ်၊ Amara Communications Co., Ltd. နှင့် International Group of Entrepreneur Co., Ltd. တို့ချုပ်ဆိုမည့် ချေးငွေ သဘောတူစာချုပ်(မူကြမ်း)၊ ချေးငွေ ပြန်ဆပ်မည့် အစီအစဉ်တို့အား တင်ပြထားပါသည်။

၃။ ကုမ္ပဏီမှ ရုံးခန်းအဖြစ် ငှားရမ်းမည့် အဆောက်အဦမှာ ၈၇ပေ x ၈၄ပေ ရှိ ပထမထပ် အခန်းအားလုံး အမှတ် ၅၂၀/A-5၊ ပြည့်ဝကွန်ဒို၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ဖြစ်ပြီး တစ်လလျှင် ကျပ် ၇,၅၀၀၀,၀၀၀ နှုန်းဖြင့် ငှားရမ်းပြီး လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၁၅ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၅ နှစ် ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက လုပ်ငန်းများ စတင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ (အမေရိကန်ဒေါ်လာ ၉၇ သန်းအပါ အဝင်) စုစုပေါင်း ကျပ် ၁၈၂၀၀၀ သန်း ဖြစ်ပါသည်။ ၎င်းတွင် ကိုယ်ပိုင်မတည်ငွေ ကျပ် ၃၆၄၅၂ သန်း (၂၀%)နှင့် ချေးငွေ အမေရိကန်ဒေါ်လာ ၁၁၂.၁၆ သန်း(၈၀%)ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၅၅၉၀၀ | သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုး | ကျပ် | ၁၂၆၁၀၀ | သန်း (US$ ၉၇ သန်း) |
| | **စုစုပေါင်း** | **ကျပ်** | **၁၈၂၀၀၀** | **သန်း (US$ ၉၇သန်းအပါအဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၃၀၂ ဦး နှင့် ပြည်ပမှ ဝန်ထမ်း ၁၀ ဦး စုစုပေါင်း ၃၁၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၁၀,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၁,၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၂၆,၀၀၀,၀၀၀ ဖြစ်ပါ သည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၄၅.၀၂ |
| (ခ) | အသုံးစရိတ် | ၁၂၀.၁၇ |
| (ဂ) | အသားတင်အမြတ် | ၂၄.၈၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမနှစ်) တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၇.၂၅ သန်း နှင့် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၈.၂၈ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၉ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၆ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၃၀၀ ကျပ်နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ Amara Communications Co., Ltd. မှ ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက်အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ၊ဂ**

(၁) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန ၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာနသည် 2600 MHz လှိုင်းနှုန်းစဉ် လေလံအား ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါကြောင်း၊ အဆိုပါလေလံတွင် ကွန်ရက်အထောက်အကူပြု လုပ်ငန်းလိုင်စင်(အထူး) ရရှိထားသည့် Amara Communications Co., Ltd. မှ Lot (2.1) အား အမေရိကန်ဒေါ်လာ ၉၅.၈၁ သန်းဖြင့် လည်းကောင်း၊ Lot (3.2) အား အမေရိကန်ဒေါ်လာ ၂၄.၅၅ သန်းဖြင့် လည်းကောင်း အနိုင်ရရှိခဲ့ပြီး လှိုင်းနှုန်းစဉ်အသုံးပြုခ (ပထမအရစ်အနေဖြင့်) ပေးဆောင်ရမည့် စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၂၀.၃၆ သန်း၏ ၅၀% ဖြစ်သည့် အမေရိကန်ဒေါ်လာ ၆၀.၁၈ သန်းကို ဆက်သွယ်ရေးဦးစီးဌာနသို့ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်နေ့တွင် ပေးသွင်းပြီးဖြစ်ပါကြောင်း၊ Amara Communications Co., Ltd. မှ 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းကို ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) အဆိုပါဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သော ဆက်သွယ်ရေး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အချိန်တွင် ဆက်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာနသို့ တင်ပြခွင့်ပြုချက် ရယူရမည်ဖြစ်ကြောင်း။

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **နောက်ဆက်တွဲ(ဃ)**

(၁) အဆိုပြု လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ် အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်း ကျင် ထိခိုက်မှု လျှော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ဆက်သွယ်ရေး ဝန်ဆောင်မှု

လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်မည့် တိုင်းဒေသကြီး/ပြည်နယ် (၉)ခုအား သီးခြားစီခွဲ၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၃) စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုများ အစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။)**

၁၀။ ကျပ်ငွေ အထောက်အထားအဖြစ် Amara Communications Co., Ltd. အမည်ဖြင့် UAB Bank ၌ ၂၅-၄-၂၀၁၇ ရက်စွဲရှိ ငွေလက်ကျန် ကျပ် ၃၈၇,၅၈၀,၅၀၃.၆၇ ရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် Amara Communications Co., Ltd. အမည်ဖြင့် United Amara Bank Ltd. ၌ ၂၀-၃-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၉၇၈,၄၂၇.၄၇ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါကြောင်း ကတိဝန်ခံချက် နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်နှင့် မီးဘေးအန္တရာယ် ကာကွယ်ရေးအစီအစဉ်များကို တင်ပြထားပါသည်။

၁၂။ လုပ်ငန်း၏ နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂% အား လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility - CSR)အဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ Amara Communications Co., Ltd. မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်နေ့ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၂၀၁၇

ခုနှစ်၊ ဇန်နဝါရီ လ ၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ ၂/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) Amara Communications Co., Ltd. သည် ကချင်ပြည်နယ်၊ ကယားပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်း ဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်း ဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိ မြို့များတွင် 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန ထံမှ လေလံအောင်မြင်ထားပါသည်။

(ခ) Amara Communications Company Limited သည် Network Facilities Service (individual) License ကို ၃၀-၃-၂၀၁၆ ရက်နေ့မှ ၂၉-၃-၂၀၁၆ ရက်နေ့ အထိ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန ထံမှ ရရှိထားပြီး ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) အဆိုပြုလုပ်ငန်းအတွက် ချေးငွေ အမေရိကန်ဒေါ်လာ ၁၁၂.၁၆ သန်းအား International Group of Entrepreneur Co., Ltd. ထံမှ တစ်နှစ်လျှင် အတိုးနှုန်း ၂% ဖြင့် ၅ နှစ်အတွင်း ပြန်လည်ပေးဆပ်မည် ဖြစ်ကြောင်း ချေးငွေပြန်လည် ပေးဆပ် မည့် အစီအစဉ်အား တင်ပြထားသည်ကို စိစစ်တွေ့ရှိ ရပါသည်။

(ဃ) အဆိုပြုလွှာတွင် ဖော်ပြထားသည့် တည်ဆောက်ရေးကာလ (၅)နှစ်အတွင်း ဝန်ဆောင်မှု ပေးခြင်းမှ ဝင်ငွေရရှိပါက ထိုဝင်ငွေအပေါ် ထိုက်သင့်သောဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်ရမည်။

(င) Amara Communications Co., Ltd. သည် ၂၀၁၆-၁၇ ဘဏ္ဍာနှစ် အတွက် ဝင်ငွေခွန် ပေးဆောင်ပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။

(စ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဆ) ရင်းနှီးမြှုပ်နှံမှု နှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒ နှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Amara Communications Co., Ltd. မှ ကချင်ပြည်နယ်၊ ကယား ပြည်နယ်၊ ချင်းပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ စစ်ကိုင်းတိုင်း ဒေသကြီး၊ မန္တလေး တိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး နှင့် ဧရာဝတီတိုင်း ဒေသကြီးရှိ မြို့များတွင် 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ကွန်ရက် အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း၊ အင်တာနက် အချက်အလက် နှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ် လ ၂၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၅၇၆/၂၀၁၇(၂၇၈)

၁။ Amara Communications Co., Ltd. မှ မြန်မာပြည်တစ်ဝန်းတွင် ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၃.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၇)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန (အားလုံး)
Amara Communications Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/11.(3)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

နောက်ဆက်တွဲ-ခ

ဝန်ကြီးရုံး

စာအမှတ်၊ဆသ-၂/မလ(သဘောထား)/၂၀၁၇(၇၆၄)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **Amara Communications Co.,Ltd မှ ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်နိုင်ရေး ကိစ္စ**

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသည် 2600 MHz လှိုင်းနှုန်းစဉ်လေလံအား ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ (၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။ အဆိုပါ လေလံတွင် ကွန်ရက်အထောက်အကူပြုလုပ်ငန်း လိုင်စင် (အထူး) ရရှိထားသည့် Amara Communications Co.,Ld မှ Lot (2.1) အား အမေရိကန် ဒေါ်လာ (၉၅.၈၁) သန်းဖြင့်လည်းကောင်း၊ Lot (3.2) အား အမေရိကန် ဒေါ်လာ(၂၄.၅၅) သန်းဖြင့် လည်းကောင်း အနိုင်ရရှိခဲ့ပြီး လှိုင်းနှုန်းစဉ်အသုံးပြုခ (ပထမအရစ်)အနေဖြင့် ပေးဆောင်ရမည့် စုစုပေါင်း အမေရိကန်ဒေါ်လာ (၁၂၀.၃၆) သန်း၏ (၅၀%) ဖြစ်သည့် အမေရိကန်ဒေါ်လာ (၆၀.၁၈)သန်းအား ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ (၂၇.၁၂.၂၀၁၆) ရက်နေ့တွင် ပေးသွင်းပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Amara Communications Co.,Ltd မှ 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ဆက်သွယ်ရေးဝန်ဆောင်မှုများ လုပ်ဆောင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ခြင်းအား ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ချစ်ဝေ၊ ခေတ္တအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- အမှုဆောင်အရာရှိချုပ်၊ Amara Communications Co.,Ltd
- ရုံးလက်ခံ / မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ဆသ-၂/မလ(သဘောထား)/၂၀၁၇(၄၉၅ )
ရက်စွဲ ၊ ၂ ၀ ၁ ၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၃၀.၁.၂၀၁၇ရက်စွဲပါစာအမှတ်၊မရက-၄/မ-၁၅၇၆/၂၀၁၇(၁၂၉)

ရည်ညွှန်းပါစာအရ Amara Communications Co.,Ltd မှ မြန်မာပြည်တစ်ဝန်းတွင် ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ပမှ ဆက်သွယ်ရေးလုပ်ငန်းသုံးပစ္စည်းများ တင်သွင်းမည့်ကိစ္စနှင့် စပ်လျဉ်း၍ အဆိုပါကုမ္ပဏီသည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၌ Network Facilities Services (Individual) လိုင်စင်အား (၃၀.၃.၂၀၁၆)တွင်ရရှိထားပြီး 2600 MHz လှိုင်းနှုန်းစဉ်လေလံ၌ Region-2 (Yangon, Ayeyarwaddy, Rakhine)နှင့် Region-3 (Mandalay, Sagaing, Chin, Shan, Kachin, Kayah)တို့တွင် အောင်မြင်ထားသည့်ကုမ္ပဏီ ဖြစ်ပါသဖြင့် ရရှိထားသောလိုင်စင်ပါ ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန်လိုအပ်သောဆက်သွယ်ရေးပစ္စည်းများ ပြည်ပမှ တင်သွင်းသည့်အချိန်တွင် ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ တင်ပြခွင့်ပြုချက်ရယူရမည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ချစ်ဝေ၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ/ မျှော

နောက်ဆက်တွဲ-ဃ

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /၀၁( ၃၀ / ၁၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Amara Communication Co., Ltd. မှ မြန်မာပြည်တစ်ဝန်းတွင် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/ မ- ၁၅၇၆/ ၂၀၁၇(၀၄၂)

၁။ Amara Communication Co., Ltd. မှ မြန်မာပြည်တစ်ဝန်းတွင် ပြည်နယ်/တိုင်းဒေသကြီး (၉) ခုတွင် ဆက်သွယ်ရေးဝန်ဆောင်မှု လုပ်ငန်းများ (2600MHz Band for Wireless Broadband Data Services) ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များ လေ့လာတွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀) နှစ်ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၅) နှစ် ဖြစ်ကြောင်း၊

(ခ) ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ ကျန်းမာရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအမံများကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှာ ရန်ကုန်တိုင်းဒေသကြီးကို ဗဟိုပြု၍ ပြည်နယ်/တိုင်းဒေသကြီး (၉) ခုတွင်ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်သွားမည်ဖြစ်ပြီး ဖိုင်ဘာကေဘယ်ကို မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းမှ ငှားရမ်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဃ) Data Center ကို ရန်ကုန်နှင့် မန္တလေးမြို့များတွင် တည်ဆောက်မည်ဖြစ်ပြီး စက်ပစ္စည်းများ တည်ဆောက်တပ်ဆင်မည့်စနစ်မှာ ကျယ်ဝန်းကြီးမားမှုမရှိဘဲ အသင့်တပ်ဆင်ပြီးဖြစ်သော Container ကိုမြေပေါ်တွင် Foundation ချ၍တပ်ဆင်ခြင်းသာဖြစ်ကြောင်း၊ ကျန်

ပြည်နယ် (၇) ခုတွင်လည်း သင့်တော်သော အမြင့်ရှိသည့် အဆောက်အဦ ခေါင်းမိုးများ ပေါ်တွင် Build Transmission Stations (BTS) များတပ်ဆင်၍ လုပ်ငန်းဆောင်ရွက် သွားမည် ဖြစ်ကြောင်း၊

(င) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အနေဖြင့် လုပ်ငန်းမှရရှိလာမည့် အသားတင် အမြတ်ငွေ၏ (၂) ရာခိုင်နှုန်းကိုထည့်သွင်း အသုံးပြုသွားမည်ဖြစ်ပြီး ဝန်ထမ်းများအား လုပ်ငန်းခွင်သင်တန်းများ ပို့ချခြင်းဆောင်ရွက် သွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်နှင့် ကာကွယ်စောင့်ရှောက်နိုင်ရန်အတွက် နိုင်ငံ တကာတွင် ကျင့်သုံးနေသော စံချိန်၊ စံညွှန်းများနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်း စစ်ခြင်းဆိုင်ရာဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)၊ လူမှုရေး ထိခိုက်မှုဆိုင်ရာဆန်းစစ်ခြင်း(Social Impact Assessment-SIA)ဆောင်ရွက်မည့် အစီ အစဉ် အကျဉ်းချုပ် ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက် မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Amara Communications Co., Ltd. မှ တင်ပြပါလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် တာဝါတိုင်များမှ အသံလှိုင်းထုတ်လွှတ်မှု ပြင်းအားပေါ်မူတည်၍ အသက် (၅) နှစ်နှင့် (၅) နှစ်အောက် ငယ်ရွယ်သောကလေးများ၏ ဦးနှောက်ပိုင်းဆိုင်ရာ ဝေဒနာများ ဖြစ်ပေါ်နိုင် ခြင်း၊

(ခ) တာဝါတိုင်များ စိုက်ထူသည့် နေရာတိုင်းတွင် ဒေသခံပြည်သူများနှင့် အငြင်းပွားမှု၊ လက် မခံမှုစသည့် ပြဿနာများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) တာဝါတိုင်များတည်ဆောက်စဉ် နည်းပညာအားနည်းမှု၊ လူ၏ပေါ့လျော့မှု၊ ကြီးကြပ်မှု အားနည်းခြင်းများကြောင့် အခြားမလိုလားအပ်သော ပြဿနာများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) Data Center ရှိ စက်ပစ္စည်းများ၊ မီးစက်များနှင့် ဝန်ထမ်းများမှ စွန့်ပစ်ပစ္စည်းများ၊ စက်ဆီ၊ ချောဆီများ၊ အမှိုက်များနှင့် မီးစက်မှ ဆူညံသံများကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုနှင့် အသံညစ်ညမ်းမှုများဖြစ်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Amara Communications Co., Ltd. မှ မြန်မာပြည်တစ်ဝန်းတွင် ပြည်နယ်/တိုင်းဒေသကြီး (၉) ခုတွင် ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်းများ (2600MHz Band for Wireless Broadband Data Services) ကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည့် တိုင်းဒေသကြီး/ပြည်နယ် (၉) ခု အားသီးခြားစီခွဲ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ဆသ-၂/မလ(သဘောထား)/၂၀၁၇(၇၆၄)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **Amara Communications Co.,Ltd မှ ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်နိုင်ရေး ကိစ္စ**

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသည် 2600 MHz လှိုင်းနှုန်းစဉ်လေလံအား ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ (၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။ အဆိုပါ လေလံတွင် ကွန်ရက်အထောက်အကူပြုလုပ်ငန်း လိုင်စင် (အထူး) ရရှိထားသည့် Amara Communications Co.,Ld မှ Lot (2.1) အား အမေရိကန် ဒေါ်လာ (၉၅.၈၁) သန်းဖြင့်လည်းကောင်း၊ Lot (3.2) အား အမေရိကန် ဒေါ်လာ(၂၄.၅၅) သန်းဖြင့် လည်းကောင်း အနိုင်ရရှိခဲ့ပြီး လှိုင်းနှုန်းစဉ်အသုံးပြုခ (ပထမအရစ်)အနေဖြင့် ပေးဆောင်ရမည့် စုစုပေါင်း အမေရိကန်ဒေါ်လာ (၁၂၀.၃၆) သန်း၏ (၅၀%) ဖြစ်သည့် အမေရိကန်ဒေါ်လာ (၆၀.၁၈)သန်းအား ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ (၂၇.၁၂.၂၀၁၆) ရက်နေ့တွင် ပေးသွင်းပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Amara Communications Co.,Ltd မှ 2600 MHz လှိုင်းနှုန်းစဉ်အား အသုံးပြု၍ ဆက်သွယ်ရေးဝန်ဆောင်မှုများ လုပ်ဆောင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ခြင်းအား ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြား အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ချစ်ဝေ၊ ဒေတ္တအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- အမှုဆောင်အရာရှိချုပ်၊ Amara Communications Co.,Ltd
- ရုံးလက်ခံ / မျှောစာတွဲ

# AMARA COMMUNICATIONS COMPANY LIMITED.

Head Office : No.520 (A-5), Pyae Wa Condo, Kabaaye Pagoda Road, Shwegonedine.
Bahan Township, Yangon, Myanmar.
Tel : 95-1-860 3281, 860 3282, 860 3283 Fax : 51-1-860 3284


The Chairman
The Myanmar Investment Commission
Yangon
The Republic of the Union of Myanmar

Date:

**Subject: Proposal from the promoter for a telecommunications project in Myanmar**

Your Excellency,

Amara Communications Company Limited ("the Company") was incorporated in Myanmar as a private limited liability company with incorporation certificate no. 2018/2011-2012 dated 30 September 2011.

The company is 100% citizen-owned and fully funded by International Group of Entrepreneur Companies Limited ("IGE"). U Than Win Swe and U Win Zaw Aye are acting as the Managing Director and Director.

**BUSINESS PROPOSAL**

In following of the Company's successful bid for lots of spectrum in the 2600 Mhz bandwidth, the Company is applying for an MIC Permit in connection with its investment as a telecommunications operator. The Company has already obtained a Network Facility Service (Individual) (NFS(I)) License dated 30 March 2016 from the Ministry of Communications and Information Technology ("MCIT"). We attach herewith a copy of the license for your reference.

This investment will be promoted by U Than Win Swe, who is the Managing Director of the Company.

**GROUP STRUCTURE**

The corporate structure is as follows:







Registration Address : No.16, Myanmar Gone Yaung Street (Estate), Myittar Nyunt Ward, Tamwe Township, Yangon, Myanmar.

**GROUP PROFILE**

International Group of Entrepreneur Companies Limited ("IGE") is a fast-expanding group of companies with a number of subsidiary companies in Myanmar. Since its establishment in 1994, IGE is one of the most influential businesses in Myanmar, with nine subsidiaries that have diverse business interests. IGE is principally involved in agriculture, energy, construction, transportation and manufacturing and it exports products to markets such as India, Thailand, Malaysia and Indonesia.

In 2011, IGE established Amara Communications Company Limited to provide telecommunications services and information technology related activities. As was mentioned, Amara Communications Company obtained a NFS(I) license that has allowed to construct, maintain and operate network facilities.

**CAPITAL INVESTMENT AND EMPLOYMENT GENERATION BY THE COMPANY**

The Company will be deploying a total investment of US$ 140 million for the project, which will be funded by owner's equity US$ 28 million and shareholder loans US$ 112 million during the 10-year investment period.

The investment will develop a strong base of technically-skilled manpower introducing international 4G LTE and broadband technology to Myanmar.

**COMMUNITY APPROACH**

The Company pays the highest attention to corporate social responsibility, and multiple approaches will be employed for the best interests of both the community and the project. The corporate social responsibility sector has become one of the most important concepts in doing business today. We believe that as the company continues to grow, its long-term success will be based on good conditions for its workers and the community, as well as a positive organizational structure. Our main goal is to minimize environmental pollution, support the communities in which we work, and develop and improve employee working conditions.

The Company, as part of the IGE group, participates in the work if the IGE Foundation, which has been active for many years in micro-finance programs, community assistance projects, disaster relief, and primary school construction. One of IGE Group's most noteworthy projects has been with Yangon's Monastic Education Centre, providing hundreds of orphaned children from conflict areas in Myanmar and from low income families with food and clothing, medical care, and an education. The IGE Foundation focuses on three main objectives: education, vocational schools and supporting young entrepreneurs.

